


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၇၁ / ၂၀၁၄ ။

၂၀၁၄ ခုနှစ်၊ မတ်လ ၂၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဆောင်ညွှန်ကြားရေးမှူး

(ခ) **အဘ အမည်** သတင်းနှင့် စာနယ်ဇင်းလုပ်ငန်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ်**

(ဃ) **နေရပ်လိပ်စာ** သတင်းနှင့်စာနယ်ဇင်းလုပ်ငန်း၊ ရုံးအမှတ်-၇၊ ပြန်ကြားရေးဝန်ကြီးဌာန၊ နေပြည်တော်၊ ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Global New Light Of Myanmar Co., Ltd. (ဂလိုဘယ်နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** သတင်းစာ ထုတ်ဝေ ဖြန့်ချိ ရောင်းချခြင်းလုပ်ငန်း ၊ ၎င်းနှင့် ဆက်စပ်သည့် ကြော်ငြာလုပ်ငန်း နှင့် ပြင်ပ ပုံနှိပ်လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ငါးထပ်ကြီးဘုရားလမ်း၊ အမှတ်(၁၅၀)၊ မြေကွက်အမှတ်(၄၇၃/အေ)၊ မြေတိုင်းရပ်ကွက်အမှတ်(၂/ကျိ)ရှိ မြေ (၀.၉၀) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၁၂၈၂၅.၀၀(သန်း) (အမေရိကန်ဒေါ်လာ (၄.၉၂) သန်း အပါအဝင် စုစုပေါင်း ကျပ် တစ်သောင်း နှစ်ထောင် ရှစ်ရာ နှစ်ဆယ့် ငါးသန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၂၅ /၂၀၁၄(မနသ)

၂၀၁၄ ခုနှစ် မတ် လ ၂၄ ရက်

၁။ ပြန်ကြားရေးဝန်ကြီးဌာန၊ သတင်း နှင့် စာနယ်ဇင်းလုပ်ငန်းမှ ၅၁ % နှင့် Global Direct Link Co., Ltd.(ဂလိုဘယ် ဒါရိုက် လင့် ကုမ္ပဏီ လီမိတက်) မှ ၄၉ % ထည့်ဝင်၍ ဖက်စပ် ကုမ္ပဏီ တည်ထောင်ထားသော Global New Light of Myanmar Co., Ltd. (ဂလိုဘယ် နယူး လိုက်အော့ဖ် မြန်မာ ကုမ္ပဏီလီမိတက်)သည် ပြန်ကြားရေးဝန်ကြီးဌာန၊ သတင်းနှင့် စာနယ်ဇင်း လုပ်ငန်းပိုင်မြေဖြစ်သော မြေတိုင်းရပ်ကွက် အမှတ်(၂/ဂျီ^၁)၊ မြေကွက်အမှတ် (၄၇၃/အေ^၅)၊ အမှတ် (၁၅၀) ၊ ငါးထပ်ကြီး ဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေ(၀.၉၀)ဧက အကျယ်အဝန်း ရှိသော မြေအား ငှားရမ်း၍ ယင်းမြေပေါ်တွင် (၈၈.၅' x ၈၂') ရှိသော Steel Structure နှစ်ထပ် အဆောက်အဦ (၁)လုံး တည်ဆောက်ပြီး The New Light of Myanmar အမည်ဖြင့် သတင်းစာထုတ်ဝေ ဖြန့်ချိရောင်းချခြင်းလုပ်ငန်း၊ ၎င်းနှင့် ဆက်စပ်သည့် ကြော်ငြာ လုပ်ငန်းနှင့် ပြင်ပပုံနှိပ်လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၅-၃-၂၀၁၄) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၂၀၁၄)အစည်းအဝေးမှ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂၊ ပုဒ်မခွဲ(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Global New Light of Myanmar Co., Ltd. (ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်) အား The New Light of Myanmar အမည်ဖြင့် သတင်းစာ ထုတ်ဝေ ဖြန့်ချိ[illegible]ချခြင်း လုပ်ငန်း ၊ ၎င်းနှင့် ဆက်စပ်သည့် ကြော်ငြာလုပ်ငန်း နှင့် ပြင်ပပုံနှိပ် လုပ်ငန်း ဆောင်ရွက်[illegible]န်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၇၁/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ Glob[illegible]ew Light of Myanmar Co., Ltd. (ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန် တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန် တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန် ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရ မည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက် ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်း တည်ဆောက်မှုပြီးစီး၍ ပထမ သုံးနှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် တင်သွင်းသည့် ကုန်ကြမ်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာ

များ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဥ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Global New Light of Myanmar Co., Ltd. (ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထား၍ ဆောင်ရွက်အကောင်အထည်ဖော်ရမည်။

၅။ Global New Light of Myanmar Co., Ltd. (ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၆။ ပြန်ကြားရေးဝန်ကြီးဌာန၊ သတင်းနှင့် စာနယ်ဇင်း လုပ်ငန်း နှင့် Global Direct Link Co.,Ltd. (ဂလိုဘယ် ဒါရိုက် လင့် ကုမ္ပဏီ လီမိတက်)တို့သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ချုပ်ဆိုထားသော မြေငှားစာချုပ် နှင့် ဖက်စပ်သဘောတူစာချုပ်ပါ စည်းမျဥ်း၊ စည်းကမ်းများ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပြန်ကြားရေးဝန်ကြီးဌာန၊ သတင်းနှင့် စာနယ်ဇင်း လုပ်ငန်း နှင့် Global Direct Link Co.,Ltd. (ဂလိုဘယ် ဒါရိုက် လင့် ကုမ္ပဏီ လီမိတက်)တို့ ချုပ်ဆိုမည့် ဖက်စပ်သဘောတူစာချုပ် နှင့် မြေငှားစာချုပ်တို့ကို လက်မှတ်ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၈။ မြေငှားရမ်းခြင်း သက်တမ်း ကာလမှာ (၁-၁-၂၀၁၄) မှ (၃၁-၁၂-၂၀၄၃) အထိ ကနဦး နှစ်(၃၀) ဖြစ်သည်။ လိုအပ်ပါက ငှားရမ်းခကို (၅)နှစ်တစ်ကြိမ် ပြန်လည် ညှိနှိုင်းဆွေးနွေးရမည် ဖြစ်သည်။

၉။ မြေငှားရမ်းခအဖြစ် တစ်နှစ်လျှင် ကျပ်(၂၁၆.၀၀)သန်းတိတိ ကျသင့်မည်ဖြစ်ပြီး နှစ်(၃၀)စာ အတွက် ကျသင့်သည့် ငှားရမ်းခငွေအား ပြန်ကြားရေး ဝန်ကြီးဌာန၊ သတင်း နှင့် စာနယ်ဇင်း လုပ်ငန်းက ဖက်စပ် ကုမ္ပဏီတွင် စုစုပေါင်း ထည့်ဝင်မည့် ငွေပမာဏ၏ ၅၁ % တွင် ပါဝင်သော ရင်းနှီးမြှုပ်နှံငွေ အဖြစ် ထည့်ဝင်မည် ဖြစ်သည်။

၁၀။ စာချုပ်သက်တမ်းပါ နှစ်(၃၀)ထက် ကျော်လွန်သော ကာလများအတွက် မြေငှားရမ်းခအား စာချုပ်ဝင်များ၏ သဘောတူညီချက်အရ နောက်ဆုံးပြင်ဆင် သတ်မှတ်သည့် နှုန်းထားအတိုင်း နှစ်စဉ် ပထမဆုံးလ၏ နောက်ဆုံးနေ့ရက်တွင် နောက်ဆုံးထား၍ ပေးချေရမည်ဖြစ်သည်။ စာချုပ် စတင် အသက်ဝင်မည့်နေ့သည် (၁-၁-၂၀၁၄) ရက်နေ့ ဖြစ်သည်။

၁၁။ Global Direct Link Co.,Ltd. (ဂလိုဘယ် ဒါရိုက် လင့် ကုမ္ပဏီ လီမိတက်)သည် မြေငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါတွင် ဖြစ်စေ (သို့မဟုတ်) စာချုပ် ရပ်စဲသည့်အခါတွင် ဖြစ်စေ မြေနှင့်တကွ ယင်းမြေပေါ်တွင် တည်ဆောက်ထားသော မရွှေ့မပြောင်းနိုင်သည့် အဆောက်အအုံတို့ကို ပြန်ကြားရေးဝန်ကြီးဌာန၊ သတင်းနှင့် စာနယ်ဇင်း လုပ်ငန်းထံ ပြန်လည် အပ်နှံရမည် ဖြစ်သည်။

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၃။ Global New Light of Myanmar Co., Ltd. (ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် Initial Environmental Examination (IEE) နှင့် Environmental Management Plan (EMP) တို့ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့ အစီရင်ခံရမည်။

၁၄။ Global New Light of Myanmar Co., Ltd. (ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉ (ဂ)ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှု ဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၅။ Global New Light of Myanmar Co., Ltd. (ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ်ကြိုတင် ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများ ပေးရမည်။

၁၆။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ Global New Light of Myanmar Co., Ltd. (ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၈။ Global New Light of Myanmar Co., Ltd. (ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ် ထားသော ပုံစံ ဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၀။ Global New Light of Myanmar Co., Ltd. (ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာရမည်။

၂၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် ၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂( င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်း ခံရမည်။

၂၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က)/မ-၁၃၇၀ / ၂၀၁၄ (၃၂၂၀-၁)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ် လ ၂၄ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ပြန်ကြားရေးဝန်ကြီးဌာန

ဆက်သွယ်ရေး၊ သတင်းအချက်အလက် နှင့် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေး ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ရန်ကုန်မြို့

ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ သတင်းနှင့် စာနယ်ဇင်း လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လုပ်ငန်း ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ ၊ Global New Light of Myanmar Co., Ltd.

(ဂလိုဘယ် နယူးလိုက်အော့ဖ် မြန်မာ ကုမ္ပဏီ လီမိတက်)